




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

စာအမှတ်၊ မရက- ၅(လ)/အ-၀၀၅/၂၀၁၈(၁၄၈-၁)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဧပြီလ ၂၉ ရက်

အကြောင်းအရာ။ **Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်)၏ ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ လေးကော့ကော် မြို့သစ်နှင့် ပတ်ဝန်းကျင်ရှိ ကျေးရွာများသို့ ဒီဇယ်ဆီသုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း အတည်ပြုမိန့် အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်)၏ ၂၀၁၈ ခုနှစ် မတ်လ ၂၉ ရက်စွဲပါ တင်ပြစာ

၁။ Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်)မှ မြေကွက်အမှတ် LKK - ၁/၃၀၉၊ ၁/၃၁၀ နှင့် တပ်မဟာ (၆) ဘက်စုံစိုက်ပျိုးမွေးမြူရေးခြံအမှတ်(၁)၊ လေးကော့ကော်မြို့သစ်၊ မြဝတီမြို့၊ ကရင်ပြည်နယ်ရှိ စုစုပေါင်းမြေ ၇ ဧကတွင် ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ လေးကော့ကော်မြို့သစ်နှင့် ပတ်ဝန်းကျင်ရှိ ကျေးရွာများသို့ ဒီဇယ်ဆီသုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြခြင်းအား ၂၀၁၈ ခုနှစ် ဧပြီလ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၅/၂၀၁၈) ကြိမ်မြောက်အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေများကိုကျင့်သုံးလျက် Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစုစွမ်းအင်ကုမ္ပဏီလီမိတက်)အား ကရင်ပြည်နယ်၊ မြဝတီမြို့နယ်၊ လေးကော့ကော် မြို့သစ်နှင့် ပတ်ဝန်းကျင်ရှိ ကျေးရွာများသို့ ဒီဇယ်ဆီသုံး Generator များဖြင့် လျှပ်စစ်ဓာတ်အား ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့်အမှတ်၊ ၀၉၇/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်)အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် တစ်ဖက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည်-

(က) Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်)အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈) ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့် အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင် ကုမ္ပဏီလီမိတက်)သည် ဤအတည်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ်ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်)အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီးမြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်)သည် အတည်ပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်းထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာ ဆောင်ရွက်ရမည်။

(င) Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်) သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်း ကာလအတွင်း အခြား ပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်း နှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၇၂ နှင့် နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ တင်ပြရမည်။

(စ) Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင် ကုမ္ပဏီလီမိတက်) သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့် ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ

အသေးစိတ်များ ပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်(ဘ်) ဆိုဒ်သို့ တင်ပြရမည်။

(ဆ) Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင် ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်း အစီရင်ခံစာကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်က သတ်မှတ်တောင်းခံသည့် ပုံစံဖြင့် တင်ပြရမည်။

၃။ Green Alliance Energy Company Limited (စိမ်းလန်းခြင်း အင်အားစု စွမ်းအင် ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရ ဖြစ်စေ၊ အခြား လိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီး ဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင် ဖြစ်စေ၊ သက်ဆိုင်ရာ ဌာနနှင့်မြေငှားရမ်းခြင်း စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင် ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီး မိတ္တူ(၅)စုံစီ အား ကော်မရှင်သို့ ပေးပို့ရမည်။

(ကျော်ဝင်း)

ဥက္ကဋ္ဌ

Green Alliance Energy Company Limited
**(စိမ်းလန်းခြင်း အင်အားစု စွမ်းအင်ကုမ္ပဏီလီမိတက်)**
**ဖြန့်ဝေခြင်း**
ပြည်ထဲရေးဝန်ကြီးဌာန
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
လျှပ်စစ်နှင့်စွမ်းအင်ဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန
ကရင်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
ကရင်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ ဘားအံမြို့
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန
ကရင်ပြည်နယ်ဦးစီးမှူးရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန